ရက်စွဲ။ ၂၁-၅-၂၀၁၉

## AwRa Energy Public Co., Ltd. နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာ တင်ပြလာခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာ အပေါ် အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အား ကုမ္ပဏီမှတင်ပြလာခြင်း | | ၈-၅-၂၀၁၈ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့တင်ပြခြင်း | ၁၄-၅-၂၀၁၈ (၁၁/၂၀၁၈) | | |
| ၅ | အဆိုပြုချက်အား လက်ခံကြောင်းပြန်ကြားခြင်း | ၂၃-၅-၂၀၁၉ | | |
| ၆ | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ သဘောထားတင်ပြခြင်း | ၁၆-၅-၂၀၁၈ | ၁၃-၆-၂၀၁၈ | ၂၉ ရက် |
| ၇ | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ သဘောထားတင်ပြခြင်း | ၁၆-၅-၂၀၁၈ | ၂၉-၅-၂၀၁၈ | ၁၄ ရက် |
| ၈ | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သဘောထားတင်ပြခြင်း | ၁၆-၅-၂၀၁၈ | | |
| ၉ | ကုမ္ပဏီသို့ အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း | | ၁၈-၇-၂၀၁၈ | ၅၅ ရက် |
| ၁၀ | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သဘောထားပြန်ကြားလာခြင်း | | ၁၈-၄-၂၀၁၉ | |
| ၁၁ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | | ၃-၅-၂၀၁၉ | |
| ၁၂ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၈/၂၀၁၉ (၂၉-၅-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | ၃၉ ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် AwRa Energy Public Co., Ltd.

လုပ်ငန်းအမျိုးအစား ဆိပ်ခံတံတားနှင့် LPG သိုလှောင်ကန်များ တည်ဆောက်၍ LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

PAT အကြိမ်/ရက်စွဲ ၁၁/၂၀၁၈(၁၄- ၅-၂၀၁၈)

| စဉ် | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|
| ၁။ | Jetty Design နှင့် Detailed Drawing များအား မြန်မာ့ ဆိပ်ကမ်း အာဏာပိုင်သို့ ဆက်လက် တင်ပြရန်။ | ပြီး | |
| ၂။ | မြေအား လယ်ယာမြေ အခြားနည်းသုံးစွဲခွင့် ဆက်လက်လျှောက်ထား ရယူရန်နှင့် ပုံစံ(၇)စာ ရွက်စာတမ်းများ တင်ပြရန်။ | ပြီး | |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံတွင် ဆောက်လုပ်မှုကုန်ကျစရိတ် ထည့်သွင်းဖော်ပြရန်နှင့် ပြည်တွင်းပြည်ပ စက်ပစ္စည်းစာရင်းအား ပြန်လည်စိစစ်တင်ပြရန်။ | ပြီး | |

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် AwRa Energy Public Co., Ltd. တည်ထောင်ပြီး ဆိပ်ခံတံတားနှင့် LPG သိုလှောင်ကန်များ တည်ဆောက်၍ LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - AwRa Energy Public Co., Ltd.<br>- ဒေါ်ခင်စန္ဒာထွန်း<br>- မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု<br>- ဆိပ်ခံတံတားနှင့် LPG သိုလှောင်ကန်များ တည်ဆောက်၍ LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်း နှင့်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၂၄/၂၆၊ ကွင်းအမှတ်-၂၃၂၊ ခနုတ်ကွင်း၊ ခနုတ်ကျေးရွာအုပ်စု၊ ဒလမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း | - ဒေါ်ခင်စန္ဒာထွန်း<br>- မြေဧရိယာ ၈.၇၇ ဧက |
| ၄။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်း မတည်ငွေရင်းပမာဏ | - ကျပ် ၃၁,၀၀၀.၀၀၀ သန်း(အမေရိကန်ဒေါ်လာ ၁၇.၅၉၄ သန်း အပါအဝင်) |
| | **ထည့်ဝင်သည့်အမျိုးအစား** | |

| | မြန်မာ ကျပ်(သန်း) | နိုင်ငံခြား US$(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၈၁၇.၇၂၁ | - | ၈၁၇.၇၂၁ |
| စက်ပစ္စည်း | - | ၁၂.၉၀၉ | ၁၉,၃၆၃.၁၁၉ |
| ဆိပ်ခံတံတား တည်ဆောက်မှု ကုန်ကျစရိတ် | ၃,၅၀၀.၀၀၀ | - | ၃,၅၀၀.၀၀၀ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း ရုံးသုံး၊ လုပ်ငန်းသုံးပစ္စည်းနှင့် | - | ၄.၆၈၅ | ၇,၀၂၈.၄၀၀ |
| ပရိဘောဂများ | ၂၉၀.၅၆ | - | ၂၉၀.၅၆၀ |
| **စုစုပေါင်း** | ၄,၆၀၈.၂၈၁ | ၁၇.၅၉၄ | ၃၁,၀၀၀.၀၀၀ |

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း(၁၀၀%) |
| ၇။ | နှစ်စဉ်ပျမ်းမျှရရှိသည့် ရောင်းရငွေ | - ကျပ် ၁၅,၁၂၀.၀၀ သန်း |

| | | |
|---|---|---|
| ၈။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း ပြည်ပ<br>ဦးရေ ၃၅ ဦး -<br>အနိမ့်ဆုံးလစာ ၂၀၀,၀၀၀ ကျပ် -<br>အမြင့်ဆုံးလစာ ၁,၀၀၀,၀၀၀ ကျပ် - |
| ၉။ | CSR | -နှစ်စဉ်အသားတင်အမြတ်၏ ၂% အား သုံးစွဲမည်ဖြစ် ကြောင်းတင်ပြထားပါသည်။ |
| ၁၀။ | အခြားတင်ပြချက်များ | -ငွေကြေး အထောက်အထားအဖြစ် AwRa Energy Public Co., Ltd. အမည်ဖြင့် ရောဝတီဘဏ်၌ ၁၂-၃-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၅၄,၉၉၂,၀၇၅ ရှိကြောင်းအထောက်အထား ပူးတွဲတင်ပြထားပါသည်။<br>-AwRa Energy Public Co., Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင် အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်း မျဉ်းများအား တင်ပြထားပါသည်။<br>-AwRa Energy Public Co., Ltd. မှ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များ၊ အလုပ်သမားများ လုပ်ငန်းခွင် သာယာရေးနှင့် သက်သာချောင်ချိရေး အတွက် စီစဉ်ဆောင်ရွက် ထားရှိမှုများနှင့် မီးဘေးလုံခြုံရေးစီမံချက်များအား တင်ပြ ထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | -မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ တွင် ပါဝင်သဖြင့် ခွင့်ပြုမိန့်ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။<br>- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမိန့်ကြော်ငြာစာအမှတ်- ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု စာရင်းတွင် မပါဝင်ကြောင်း စိစစ်တွေ့ ရှိရပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(စ)/ခ-၀၁၂/၂၀၁၉(၂၈၀ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ် မေလ ၂၂ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့

တင်ပြသည့် အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် AwRa Energy Public Co., Ltd. တည်ထောင်ပြီး ဆိပ်ခံတံတားနှင့် LPG သိုလှောင်ကန်များ တည်ဆောက်၍ LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် AwRa Energy Public Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဒလမြို့နယ်၊ ခနော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၂၃၂၊ ခနော်ကွင်း၊ ဦးပိုင်အမှတ်-၂၄/၂၆ ရှိ မြေဧရိယာ ၈.၇၇ ဧကတွင် ဆိပ်ခံတံတားနှင့် LPG သိုလှောင်ကန်များ တည်ဆောက်၍ LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်တင့်တင့်အောင်၏ ရန်ကုန်တိုင်းဒေသကြီး၊ ဒလမြို့နယ်၊ ခနော်ကျေးရွာ၊ ကွင်းအမှတ်-၂၃၂(ခနော်ကွင်း)၊ ဦးပိုင်အမှတ်-၂၄/၂၆ ရှိ မြေဧရိယာ ၈.၇၇ ဧက၏ မြေပိုင်ဆိုင်မှု အထောက်အထား၊ မြေပိုင်ရှင် ဒေါ်တင့်တင့်အောင်နှင့် ယခုလုပ်ငန်း ဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံသူ ဒေါ်ခင်စန္ဒာထွန်းတို့အကြား ၂၀၁၈ ခုနှစ် မတ်လ ၂၁ ရက်နေ့တွင် ချုပ်ဆိုထားသည့် မြေအရောင်းအဝယ်စာချုပ်နှင့် ကုမ္ပဏီ၏ ၁၉-၅-၂၀၁၉ ရက်စွဲပါ လယ်ယာမြေအား အခြားနည်းသုံးစွဲခွင့် လျှောက်ထားဆဲဖြစ်ကြောင်း တင်ပြစာတို့အား ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေး ကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

ကန့်သတ်

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၁၇.၅၉၄ သန်း အပါအဝင် ကျပ် ၃၁,၀၀၀ သန်းဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | မြန်မာ (ကျပ်/သန်း) | နိုင်ငံခြား (US$/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၈၁၇.၇၂၁ | - | ၈၁၇.၇၂၁ |
| စက်ပစ္စည်း | - | ၁၂.၉၀၉ | ၁၉,၃၆၃.၃၁၉ |
| ဆိပ်ခံတံတား တည်ဆောက်မှု ကုန်ကျစရိတ် | ၃,၅၀၀.၀၀၀ | - | ၃,၅၀၀.၀၀၀ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်း | - | ၄.၆၈၅ | ၇,၀၂၈.၄၀၀ |
| ရုံးသုံး၊ လုပ်ငန်းသုံးပစ္စည်းနှင့် ပရိဘောဂများ | ၂၉၀.၅၆၀ | - | ၂၉၀.၅၆၀ |
| **စုစုပေါင်း** | ၄,၆၀၈.၂၈၁ | ၁၇.၅၉၄ | ၃၁,၀၀၀.၀၀၀ |

၅။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း ၃၅ ဦး ခန့်ထား မည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ LPG အား ပြည်တွင်းသို့ ၁၀၀% ရောင်းချသွားမည်ဖြစ်ပြီး ပထမ နှစ်တွင် လီတာသန်းပေါင်း ၅၄ သန်းအား တစ်လီတာလျှင် ရောင်းဈေးနှုန်း ၂၈၀ ကျပ်ဖြင့် ရောင်းချ သွားမည်ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ လျှပ် စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနနှင့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့သို့ သဘောထား မှတ် ချက် တောင်းခံခဲ့ရာ သက်ဆိုင်ရာ ဌာနများမှ ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားစာများအား **နောက်ဆက်တွဲ(က)၊ (ခ) နှင့် (ဂ)** တို့ဖြင့် အသီးသီး တင်ပြထား ပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် AwRa Energy Public Co., Ltd. အမည်ဖြင့် ရောဝတီဘဏ်၌ ၁၂-၃-၂၀၁၈ ရက်နေ့တွင် ကျပ် ၅၄,၉၉၂,၀၇၅ ရှိကြောင်း တင်ပြထားပါ သည်။

၉။ အဆိုပြုလုပ်ငန်းအား ၂၀၁၈ ခုနှစ် မေလ ၁၄ ရက်နေ့တွင် ကျင်းပသည့် အဆိုပြု ချက် စိစစ်ရေးအဖွဲ့၏ (၁၁/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်းတင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီတာမြိုင်ရပ်ကွက်၊ မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းပိုင်၊ သဘော်ာဖျက်စက်ရုံ(သီလဝါ)တွင် BOT စနစ်ဖြင့် ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG များ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် Brighter Energy Co., Ltd. အား ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် AwRa Energy Public Co., Ltd. မှ ဆိပ်ခံတံတားနှင့် LPG သိုလှောင်ကန်များ တည်ဆောက်၍ LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/(မြေ-MPA)/၂၀၁၈( ၆၂ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇွန်လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆.၅.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၅(စ)/ခ-၀၁၂/၂၀၁၈(၁၆၇)

၁။ Awra Energy Public Co., Ltd. က ရန်ကုန်တိုင်းဒေသကြီး၊ ဒလမြို့နယ်၊ ခနတ်ကျေးရွာ၊ ကွင်းအမှတ်- ၂၃၂ (ခနတ်ကွင်း)၊ ဦးပိုင်အမှတ်- ၂၄/၂၆ ရှိ မြေဧရိယာ ၈.၇၇ ဧကတွင် LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းအပေါ် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာသည်ကိုစွ ဖြစ်ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် ထင်းအစားထိုးလောင်စာအဖြစ် ရေနံဓါတ်ငွေ့ရည် (LPG) အား နိုင်ငံအဝန်း အသုံးပြုရန် ရည်ရွယ်၍ LPG တင်/ချ ပြုလုပ်နိုင်သော ဆိပ်ခံတံတား၊ LPG Storage Tank များ နှင့် LPG Filling Station တို့ကို တည်ဆောက်ပြီး LPG သိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် တင်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ ဒလမြို့နယ်၊ ခနတ်ကျေးရွာ၊ ကွင်းအမှတ်-၂၃၂ (ခနတ်ကွင်း)၊ ဦးပိုင်အမှတ်-၂၄/၂၆ ရှိ မြေဧရိယာ ၈.၇၇ ဧကကို ကျောထောက်နောက်ခံပြု၍ LPG Storage Tank များ တည်ဆောက်ခြင်းနှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ဒလကမ်းနားဒေသရှိ ရေဒေသဧရိယာတွင် LPG တင်/ချ ပြုလုပ်နိုင်သော Dolphin Type ဆိပ်ခံတံတား တည်ဆောက်ခြင်းလုပ်ငန်းတို့ကို အမေရိကန်ဒေါ်လာသန်း (၃၀) ရင်းနှီးမြှုပ်နှံ၍ (၂)နှစ်အတွင်း အကောင်အထည်ဖော် တည်ဆောက်သွားမည်ဖြစ်ကြောင်း တင်ပြထားသည်ကို တွေ့ရှိရပါသည်။

၄။ နောက်ခံမြေတွင် LPG တန်ချိန် ၂၀၀၀ ဆံ့ သိုလှောင်နိုင်သော LPG Storage Tank (၂)လုံး နှင့် LPG Filling Station အား ပထမအဆင့် တည်ဆောက်သွားမည်ဖြစ်ပြီး၊ ဒုတိယအဆင့်အနေဖြင့် LPG တန်ချိန် ၂၀၀၀ ဆံ့ LPG Storage Tank (၂)လုံး ထပ်မံတည်ဆောက်သွားမည် ဖြစ်ကြောင်း တွေ့ရှိရပါသည်။



၅။ LPG တင်/ချပြုလုပ်နိုင်သော Dolphin Type ဆိပ်ခံတံတားအား သီလဝါဆိပ်ကမ်းဒေသ၏ မျက်နှာချင်းဆိုင် ဒလဘက်အခြမ်း ရန်ကုန်မြစ်ကမ်းနဖူးတွင် တည်ဆောက်မည်ဖြစ်ကြောင်း တွေ့ရှိရပြီး LPG တင်/ချပြုလုပ်နိုင်သော ဆိပ်ခံတံတား တည်ဆောက်မည့်နေရာသည် ရန်ကုန်မြစ်အတွင်းသို့ ဝင်ရောက်သည့် သင်္ဘောကြီးအဝင် ရေလမ်းကြောင်းနှင့် လွတ်ကင်းသော နေရာဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ Awra Energy Public Co., Ltd. မှ ဒလကမ်းနားဒေသရှိ ရန်ကုန်မြစ်ကမ်းနဖူးတွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသဧရိယာတွင် LPG တင်/ချ ပြုလုပ်နိုင်သော ဆိပ်ခံတံတား တည်ဆောက်ခွင့်ပြုခြင်းအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ မြေအသုံးချမှုပရီမီယံကြေးနှင့် လစဉ် ရေဒေသမြေငှားရမ်းခများကို ပေးဆောင်စေရမည်ဖြစ်ပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Awra Energy Public Co., Ltd. တို့အကြား ပဋိညာဉ်စာချုပ်နှင့် ရေဒေသမြေငှားရမ်းသည့် မြေငှားစာချုပ်တို့ ချုပ်ဆိုရန်လိုအပ်မည် ဖြစ်ပါသည်။

၇။ ထို့ပြင် ဒလကမ်းနားဒေသတွင် Awra Energy Public Co., Ltd. ၏ LPG Terminal ၊ LPG Storage Tank နှင့် LPG Filling Station တို့ကို အကောင်အထည်ဖော် တည်ဆောက်ခွင့်ပြုမည်ဆိုပါက LPG Storage Tank များ တည်ဆောက်သည့်အခါ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန ရေနံထွက်ပစ္စည်းများ တင်သွင်းသိုလှောင် ချက်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများ ထိန်းသိမ်းကြီးကြပ်ရေးကော်မတီ၏ စည်းကမ်းသတ်မှတ်ချက်များ၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနရှိ သစ္စာတွင်းဦးစီးဌာန နှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့တို့၏ သဘောထားမှတ်ချက်တို့နှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။

၈။ သို့ဖြစ်ပါ၍ Awra Energy Public Co., Ltd. မှ ဒလမြို့နယ်၊ ခနောက်ကျေးရွာ၊ ကွင်းအမှတ်-၂၃၂ (ခနောက်ကွင်း)၊ ဦးပိုင် အမှတ်-၂၄/၂၆ ရှိ မြေဧရိယာ ၈.၇၇ ဧကတွင် LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြထားခြင်းနှင့်စပ်လျဉ်း၍ အထက်အပိုဒ်(၆)နှင့်(၇)ပါ အချက်များနှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ/မျှောစာတွဲ






နောက်ဆက်တွဲ-ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊MOEE-၂/(၁၅)/(သဘောထား)/(၈၁၇၉ )/၂၀၁၈
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ၊ မေလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၅-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ခ-၀၁၂/ ၂၀၁၈(၁၆၆)

၁။ Awra Energy Public Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒလမြို့နယ်၊ နေတ်ကျေးရွာ၊ ကွင်းအမှတ်-၂၃၁(နေတ်ကွင်း)၊ ဦးပိုင်အမှတ်-၂၄/ ၁၆ ရှိ မြေ ၈.၇၇ ဧကတွင် LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အဆိုပါလုပ်ငန်းအား ကန့်ကွက်ရန် ရှိ-မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) LPG တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းလုပ်ကိုင်မည့်ကုမ္ပဏီသည် Layout Plan, Detail Design & Drawing များနှင့် အခြားလိုအပ်သော စာရွက်စာတမ်းအထောက်အထားများကို လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းသို့ တင်ပြရမည်ဖြစ်ပြီး၊ ၎င်းအဆိုပြုတင်ပြချက်များကို သတ်မှတ်ချက်များနှင့် ကိုက်ညီမှု ရှိ/ မရှိ စိစစ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ခ) သတ်မှတ်စည်းကမ်းချက်များနှင့်ကိုက်ညီပါက လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းအနေဖြင့် အဆိုပြုတင်ပြထားသည့် Layout Plan, Detail Design & Drawing များအတိုင်း တည်ဆောက်သွားရန် ကုမ္ပဏီသို့ အကြောင်းပြန်ကြားမည်ဖြစ်ကြောင်း၊

(ဂ) ရေနံနှင့်ရေနံထွက်ပစ္စည်း(ဥပဒေ)ပါအချက်များနှင့်အညီ ဆောင်ရွက်ရန် ဖြစ်ကြောင်း၊

(ဃ) Environmental Impact Assistance(EIA), Social Impact Assistance (SIA)report အား ECD သို့ တင်ပြဆောင်ရွက်ရန်ဖြစ်ကြောင်း၊

(င) LPG တင်သွင်းရန်အတွက် သတ်မှတ်ထားသော အခွန်နှုန်းထားအတိုင်း လိုက်နာဆောင်ရွက်ရန်ဖြစ်ကြောင်း၊

(စ) LPG တင်သွင်းရာတွင် HSE အတွက် International Standard & Code တစ်ခုကို သတ်မှတ်အသုံးပြုရန်ဖြစ်ကြောင်း၊

(ဆ) မြေပိုင်ဆိုင်မှု ခိုင်လုံသောအထောက်အထားတင်ပြရန်ဖြစ်ကြောင်း၊

(ဇ) ဆိပ်ခံတံတား Jetty တည်ဆောက်ခွင့်ကို သက်ဆိုင်ရာတိုင်းဒေသကြီး၏ ခွင့်ပြုမိန့်နှင့် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ ခွင့်ပြုချက်ကို လျှောက်ထားဆောင်ရွက်ရန်ဖြစ်ကြောင်း၊

ပြည်ထောင်စုဝန်ကြီး( )
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန
မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နောက်ဆက်တွဲ-ဂ
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၂ (၃၃) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဧပြီ လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ LPG သိုလှောင်၊ တင်သွင်း၊ သိုလှောင်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် MIC ခွင့်ပြုမိန့်ရရှိရေးတင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ ဤရုံး၏ ၁၈.၆.၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၃ / ၆- ၃ (၇) တိုင်းရင်းသား

၁။ ရန်ကုန်တောင်ပိုင်းခရိုင်၊ ဒလမြို့နယ်၊ ငနတ်ကျေးရွာ၊ ကွင်းအမှတ်(၂၃၂)၊ ငနတ်ကွင်း၊ ဦးပိုင်အမှတ်(၂၄/၂၆)ရှိ မြေဧရိယာ(၈.၇၇)ကေတွင် LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Awra Energy Public Co.,Ltd မှ တင်ပြမှုနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံလာမှုအပေါ် ၁၄.၆.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၂၄/၂၀၁၈) ဆုံးဖြတ်ချက်အပိုဒ်(၁၄၉)အရ မြေကို အခြားနည်းသုံးစွဲခွင့်ရရှိပြီးမှသာ ပြန်လည်တင်ပြရန် ရည်ညွှန်းပါစာဖြင့် သဘောထားပြန်ကြားထားပါသည်။

၂။ အဆိုပါလုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ရန်ကုန်ဆိပ်ကမ်းအသစ် အကောင်အထည်ဖော်မည့်နေရာအတွင်း တည်ရှိနေသဖြင့် တိုင်းအစိုးရစီမံကိန်း စည်းကမ်းချက်များအတိုင်း အဆိုပါစီမံကိန်းစတင်သည့်အခါ လိုက်ပါဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ လုပ်ငန်းလွယ်ကူချောမွေ့စွာဆောင်ရွက်နိုင်ရန်အတွက် MIC သို့ တင်ပြထားသော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားအားပြန်လည်သုံးသပ်နိုင်ပါရန် Awra Energy Public Co.,Ltd မှ ထပ်မံတင်ပြလာပါသည်။

၃။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ Awra Energy Public Co.,Ltd ၏ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ရန်ကုန်ဆိပ်ကမ်းစီမံကိန်း အကောင်အထည်ဖော်မည့်

နေရာအတွင်း တည်ရှိသဖြင့် တိုင်းဒေသကြီးအစိုးရစီမံကိန်း စည်းကမ်းချက်များအတိုင်း စီမံကိန်း စတင်သည့်အခါ လိုက်ပါဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

၄။ ရည်ညွှန်းချက်ပါစာအားဤစာဖြင့် လွှမ်းမိုးပယ်ဖျက်အပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(ဟံထွန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့်စွမ်းအင်ဝန်ကြီး)

မိတ္တူကို

တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

AwRa Energy Public Co.,Ltd

လက်ခံစာတွဲ

မျှောစာတွဲ